ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ် ၊မရက- ၂/၈-၁၃၄/၂၀၁၉ ( ၀၃၃ )
ရက်စွဲ ၊၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ Global Earth Agro and Aqua Industry Public Company Limited ၏ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမုန့်၊ ငါးဆီ) လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြလာခြင်း အဆိုပြု လျှောက်ထားလွှာအပေါ် ကွင်းဆင်းစစ်ဆေးခဲ့သည့် အစီရင်ခံစာ တင်ပြခြင်းကိစ္စ

၁။ Global Earth Agro and Aqua Industry Public Company Limited သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမုန့်၊ ငါးဆီ) အကောင်အထည်ဖော်ဆောင်ရွက်ရန် အဆိုပြုတင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ပြီးမှသာ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပြု လုပ်ငန်း၏ အချက်အလက်များအား ပူးတွဲ တင်ပြအပ်ပါသည်။

**နောက်ဆက်တွဲ(က)**

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၄ ရက်စွဲပါ ရုံးတွင်း အမိန့်စာအမှတ် ၂၀/၂၀၁၉ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက် ဦးဆောင်သော ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ အနေဖြင့် ၂၀၁၉ခုနှစ်၊ ဇန်နဝါရီလ ၁၅ ရက်နေ့တွင် စီမံကိန်း၏ အခြေအနေများကို သွားရောက်စစ်ဆေးခဲ့ပြီးသည့် အစီရင်ခံစာအား ပူးတွဲဖြင့် တင်ပြအပ်ပါသည်။

**နောက်ဆက်တွဲ(ခ)**

**ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၏ သုံးသပ်တင်ပြချက်**

၃။ Global Earth Agro & Aqua Industry Public Company Limited ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမုန့်၊ ငါးဆီ) ဆောင်ရွက်ရန် တင်ပြလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ အနေဖြင့် အောက်ပါ အတိုင်း သုံးသပ်တင်ပြထားပါသည်-

(က) ကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းအမျိုးအစားသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဦးစားပေးဆောင်ရွက်မည့် လုပ်ငန်းများစာရင်းတွင်ပါရှိပြီးဖြစ်သကဲ့

သို့ အကျယ်အဝန်း၊ ငွေသား နှင့် စက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုပမာဏများအရလည်း မြန်မာနိုင်ငံတွင် မွေးမြူရေးကဏ္ဍ၌ အကြီးမားဆုံးနိုင်ငံသားပိုင် ရင်းနှီးမြှုပ်နှံမှု ဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် အားပေးသင့်သောလုပ်ငန်းဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ခ) ကုမ္ပဏီအနေဖြင့် နိုင်ငံတော်မှ အသိအမှတ်ပြုသည့် အထူးသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုသည့် လုပ်ငန်းဖြစ်မှသာလျှင် နိုင်ငံတကာ ဈေးကွက်ကို ထိုးဖောက်ရာ၌လည်းကောင်း၊ ချေးငွေရရှိရေးအတွက်လည်းကောင်း ပိုမိုလွယ်ကူနိုင်မည်ဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ဂ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကွင်းဆင်း စစ်ဆေးရေးအဖွဲ့၏ အစီရင်ခံစာပါ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ရှုထောင့်မှ တွေ့ရှိချက်များ အပေါ် ကုမ္ပဏီအနေဖြင့် လိုက်နာ ဆောင်ရွက်သွားရန်နှင့် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment- EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့အား ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေနှင့်အညီ ရေးဆွဲပြီးပါက သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ဆက်လက် တင်ပြသွားရန် လိုအပ်ပါသည်။

(ဃ) ငါးအအေးခန်းစက်ရုံ၊ ရုံးအဆောက်အဦ၊ ဝန်ထမ်းအိမ်ရာ စသည်များအတွက် လယ်ယာမြေအခြားနည်း အသုံးချခွင့် ရရှိရေးအတွက် စိုက်ပျိုးမွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားခြင်းအား ပြီးစီးသည်အထိ ဆက်လက် ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

(င) တင်ပြပါငါးမွေးမြူရေးလုပ်ငန်းသည် ပြည်ပဈေးကွက်ရှိသော လုပ်ငန်းတစ်ခုဖြစ်သည့်အလျောက် ရေလုပ်ငန်းဆောင်ရွက်နိုင်သည့် မွန်ပြည်နယ်၊ တနင်္သာရီတိုင်းဒေသကြီးနှင့် ဖွံ့ဖြိုးတိုးတက်မှုအားနည်းသော ကရင်ပြည်နယ်၊ ကယားပြည်နယ် ဒေသများတွင် နည်းပညာများဆင့်ပွားဖြန့်ဖြူးစေပါက တိုင်းဒေသကြီး၊ ပြည်နယ်များ၏ ဖွံ့ဖြိုးတိုးတက်မှုအတွက်များစွာ အထောက်အကူဖြစ်စေနိုင်မည် ဖြစ်ပါကြောင်း သုံးသပ်တင်ပြအပ်ပါသည်။

**စိစစ်တင်ပြချက်**

၄။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) Global Earth Agro & Aqua Industry Public Company Limited မှ ဆောင်ရွက်မည့် ငါးမွေးမြူခြင်း၊ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) သည် နိုင်ငံတော်၏ စီးပွားရေး

လျှင်မြန်စွာ ဖွံ့ဖြိုးရေးအတွက် အဓိက မောင်းနှင်အားဖြစ်သော မွေးမြူရေးကဏ္ဍ ဖွံ့ဖြိုးရေးအတွက် အထောက်အကူပြုနိုင်မည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းတစ်ခု ဖြစ်ပါသည်။

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာ ဆောင်ရွက်သွားမည်ဆိုပါက ထောက်ခံ အားပေးရမည်ဖြစ်သော နိုင်ငံစီးပွားရေးဖွံ့ဖြိုးမှုအတွက် အထောက်အကူပြုမည့် လုပ်ငန်းတစ်ရပ်ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) ငါးမွေးမြူခြင်း၊ အဆင့်မြင့်ထုတ်ကုန်များ ထုတ်လုပ်ခြင်းအားဖြင့် ကုမ္ပဏီ အနေဖြင့် အကျိုးအမြတ်ရှိစေခြင်း၊ နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရရှိနိုင်ခြင်း၊ ဒေသခံများ အလုပ်အကိုင်ရရှိခြင်း၊ ပညာရေး၊ ကျန်းမာရေးများတိုးတက်ခြင်းတို့ကြောင့် လုပ်ငန်းစီမံကိန်းနှင့် ဆက်စပ်သည့် အနီးပတ်ဝန်းကျင်ဒေသဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်း စသည့်တိုက်ရိုက်အကျိုးစီးပွားများ ကိုလည်းကောင်း၊ Integrated Business ဖြစ်ခြင်းကြောင့် ထုတ်လုပ်မှုအပြင် အခြားဝန်ဆောင်မှု လုပ်ငန်းများဖြစ်သော လမ်းတံတား၊ ဆိပ်ကမ်းစသည့် ဆက်စပ် ကဏ္ဍအသီးသီးအနေဖြင့်လည်း လိုက်ပါဖွံ့ဖြိုးလာသည့် သွယ်ဝိုက် အကျိုးစီးပွားများကိုလည်းကောင်း ရရှိခံစားနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်နှင့်အညီ Global Earth Agro and Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာသော လုပ်ငန်းအား ကွင်းဆင်း စစ်ဆေးပြီးဖြစ်ပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ (က)

ကန့်သတ်

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည့်ပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ(ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Global Earth Agro & Aqua Industry Public Company Limited<br>- ဦးဌေးမြင့် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရခိုင်ပြည်နယ်ပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း နှင့် ဆက်စပ်သောလုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) |
| ၂။ | တည်နေရာ | - ကွင်းအမှတ်-၆၂၀(က)၊ ကျူတုံးချောင်း၊ ကွင်းအမှတ်- ၆၂၀(ခ)၊ ပဥ္စကုန်းနောက်၊ ကွင်းအမှတ်-၆၂၂(ခ)၊ ပိုက်တန်း၊ မြေနုကျေးရွာ၊ ကွင်းအမှတ်-၆၁၈(ခ)၊ ပဥ္စကုန်းအရှေ့၊ ကွင်းအမှတ်- ၆၁၈(ဂ)၊ ပဥ္စကုန်းတောင်၊ ကွင်းအမှတ်- ၆၁၉၊ ဥတို၊ ဘုရားချောင်းကျေးရွာ၊ ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း | - ဦးဌေးမြင့်<br>- စုစုပေါင်း မြေ ၃၆၄၄.၁၃ ဧက အနက် မြေ ၉၀၀ ဧက |
| ၄။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၃ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား | - **ကျပ် ၂၀၀,၀၀၀.၀၀၀ သန်း (အမေရိကန်ဒေါ်လာ ၈၈.၄၈၂ သန်း အပါအဝင်)** |

| | ကျပ်(သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| - ငွေသား | ၄၅,၀၀၀.၀၀၀ | - | ၄၅,၀၀၀.၀၀၀ |
| - ငါးသားပေါက်ခြင်းနှင့် ပြုစုစောင့်ရှောက်ခြင်း | | ၀.၆၅၆ | ၉၈၃.၂၅၀ |
| - မြေကန်အစာကျွေးစနစ် | | ၂.၆၀၆ | ၃၉၀၉.၆၆၀ |
| - မြေကန် | ၆၈၈၀.၃၄၀ | ၀.၇၆၄ | ၈၀၂၆.၃၄၀ |
| - စက်ပစ္စည်း | | ၇၄.၂၈၆ | ၁၁၁,၄၂၉.၇၅၀ |
| - ပရိဘောဂနှင့်ရုံးသုံး ပစ္စည်း | ၈၆.၀၀၀ | | ၈၆.၀၀၀ |
| - အဆောက်အဦ | ၁၅,၃၁၀.၀၀၀ | | ၁၅,၃၁၀.၀၀၀ |
| - မော်တော်ယာဉ်နှင့် လုပ်ငန်းသုံးယန္တရားပစ္စည်း | | ၈.၃၅၀ | ၁၂,၅၂၅.၀၀၀ |
| - ဓါတ်အားပေးရုံ | | ၁.၈၂၀ | ၂၇၃၀.၀၀၀ |
| စုစုပေါင်း | ၆၇၂၇၆.၃၄၀ | ၈၈.၄၈၂ | ၂၀၀,၀၀၀.၀၀၀ |

ကန့်သတ်

၆။ ဝန်ထမ်းအင်အား(ပထမနှစ်) - ၂၃၇၉ ဦး

| | ပြည်တွင်း ဝန်ထမ်း | ပြည်ပ ဝန်ထမ်း |
|---|---|---|
| Hatchery, Ground Pond & Nursery Pond | ၃၁၇ | ၁ |
| Fish Feed Mill | ၁၀၅ | ၁ |
| Processing & Coldstorage | ၁၉၁၃ | ၁ |
| Fish Meal Mill | ၄၀ | ၁ |
| စုစုပေါင်း | ၂၃၇၅ | ၄ |

- ၂၃၇၅ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၅၀,၀၀၀ ဖြစ်ပါသည်။)
- ၄ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။)

၇။ ရောင်းချမည့်စနစ် - ပြည်ပ ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| စဉ် | အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (က) | Fish Fillet | ၂၁၆၀၀ | ၂၈၀၀ |
| (ခ) | Butterfly | ၉၆၀၀ | ၁၄၅၀ |
| (ဂ) | Fish Skin | ၉၆၀ | ၂၅၀၀ |
| (ဃ) | Fish Maw | ၆၀၀ | ၃၀၀၀ |
| (င) | Fish Meal | ၂၄၉၀ | ၇၅၀ |
| (စ) | Fish Oil | ၁၄၄၀ | ၇၀၀ |

၈။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) - ၁၈၂၀၀ ကီလိုဝပ်

၉။ အခြားတင်ပြချက် - မြေအထောက်အထားအဖြစ် ဦးဌေးမြင့် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသည့် ငါးမွေးမြူရေးကန်မြေ အထောက်အထား တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - ကုမ္ပဏီမှ မျိုးငါးကန် ၁၀၁ ကန်၊ အသားတိုးမွေးမြူရေးကန် ၁၈၁ ကန်တွင် ငါးမွေးမြူရေး လုပ်ငန်း ဆောင်ရွက်ပြီး လုပ်ငန်းနှင့်ဆက်စပ်သော ငါးပြုပြင် ထုတ်လုပ်ရန် အအေးခန်း သိုလှောင်ရုံ၊ ငါးပေါင်းမှုန့်စက်ရုံ၊ ငါးအစာ စက်ရုံများကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- Global Earth Agro & Aqua Industry Public Company Limited ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံသားစိစစ်ရေးကတ်ပြား(မိတ္တူ)များ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း၏ လုပ်ငန်း စီမံကိန်းအစီအစဉ်၊ လုပ်ငန်း ဆောင်ရွက်ပုံ အဆင့်ဆင့်၊ ထုတ်လုပ်မည့် ပစ္စည်းနမူနာပုံများ၊ အဆောက်အဦပုံ၊ တည်နေရာပြမြေပုံများ တင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် Hatchery & Nursery US$ ၀.၆၅၆ သန်း၊ Growout Pond Feeding System US$ ၂.၆၀၆ သန်း၊ Growout Pond US$ ၀.၇၆၄ သန်း၊ စက်ပစ္စည်း US$ ၇၄.၂၈၆ သန်း၊ လုပ်ငန်းသုံးယာဉ် US$ ၈.၃၅၀ သန်း၊ Generator US$ ၁.၈၂၀ သန်း နှင့် ပထမနှစ်တွင် လုပ်ငန်းသုံး ကုန်ကြမ်းများ US$ ၃၃.၄၃၀ သန်း တန်ဖိုးရှိ စာရင်းများ တင်ပြထားပါသည်။<br>- ယာဉ်ယန္တရားစာရင်းတွင် Refer Freezer Truck (၂၀)စီး၊ Cargo Truck for Raw Material (၄၀)စီး၊ Cargo Truck for Finished Goods (၂၅)စီး နှင့် Live Fish Transport Tank Truck (၂၅)စီး တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးဌေးမြင့်(ယူဇနေ)နှင့် ဒေါ်အေးအေးမော် တို့အမည်ဖြင့်KBZ Bank တွင် ၁၉-၁၀-၂၀၁၈ ရက်နေ့၌ ကျပ် ၁၅,၀၇၁,၅၄၆,၈၁၂.၄၃ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ကုမ္ပဏီမှ ဆောင်ရွက်မည့် ငါးမွေးမြူရေးကန် မြေ (၅၀)ဧကတွင် စက်ရုံ နှင့် ရုံးအဆောက်အအုံ၊ ဝန်ထမ်းအိမ်ရာနှင့် ဆက်စပ် အဆောက်အအုံများ တည်ဆောက် အသုံးချခွင့်အား ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် တိုင်းမြေစာရင်း ဦးစီးမှူး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနများသို့ လျှောက်ထားပြီးဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0321, 1020 တို့တွင် အကျုံးဝင်ပြီး ဇုန် (၂)တွင် ပါဝင်ပါသည်။ |

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ကွင်းဆင်းစစ်ဆေးချက်အစီရင်ခံစာ**

**နိဒါန်း**

၁။ ရခိုင်နှန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုတစ်ခုဖြစ်သောGlobal Earth Agro & Aqua Industry Public Company Limited သည် ကွင်းအမှတ်-၆၂၀(က)၊ ကျုံတုံးချောင်း၊ ကွင်းအမှတ်-၆၂၀(ခ)၊ ပဉ္စကုန်းနောက်၊ ကွင်းအမှတ်- ၆၂၂(ခ)၊ ပိုက်တန်း၊ မြေနုကျေးရွာ၊ ကွင်း အမှတ်-၆၁၈(ခ)၊ ပဉ္စကုန်းအရှေ့၊ ကွင်းအမှတ်-၆၁၈(ဂ)၊ ပဉ္စကုန်းတောင်၊ ကွင်းအမှတ်-၆၁၉၊ ဥတို၊ ဘုရားကျောင်းကျေးရွာ၊ ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ ငါးမွေးမြူရေးကန်မြေ (၃၆၄၄.၁၃)ဧက အနက် မြေ (၉၀၀)ဧကတွင် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများ(ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ)အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ပြီးမှသာ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၉ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်နေ့စွဲပါ ရုံးတွင်း အမိန့်စာအမှတ်၊ ၂၀/၂၀၁၉ အရ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဖွဲ့စည်းခဲ့ပြီး ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၁၅ ရက်နေ့တွင် ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ ဆောင်ရွက်မည့် နေရာသို့ သွားရောက်၍ လုပ်ငန်းဆောင်ရွက်မည့် အခြေအနေများအား ကွင်းဆင်းစစ်ဆေးခဲ့ပါသည်။

**ရည်ရွယ်ချက်**

၃။ ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ အနေဖြင့် အောက်ပါ အချက်အလက်များအပေါ် အခြေခံ၍ စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်-

(က) မြေပြင်တွင် အဆိုပြု လျှောက်ထားလွှာပါ လုပ်ငန်းများအလိုက် တည်ဆောက်ရေး လုပ်ငန်းများ ဆောင်ရွက်လျက်ရှိသော အခြေအနေ။

(ခ) ငွေကြေး အရင်းအနှီးကျပ် သန်းပေါင်း ၂၀၀,၀၀၀ ရရှိနိုင်မည့် အခြေအနေ။

(ဂ) ထွက်ရှိမည့် ကုန်ချောများအား ပြည်ပသို့ တင်ပို့ရေး ဆောင်ရွက်ထားရှိမှု အခြေအနေ။

(ဃ) ပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေး ဆောင်ရွက်ထားရှိမှု အခြေအနေ။

(င) နည်းပညာ ရရှိနိုင်မှု၊ အလုပ်သမားခန့်ထားမှု အခြေအနေ။

(စ) အခြားလိုအပ်သော အချက်များ။

**ကွင်းဆင်းစစ်ဆေးရေးအဖွဲ့**

၄။ ကွင်းဆင်းစစ်ဆေးရေး အဖွဲ့ဝင်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ပါမောက္ခဒေါက်တာအောင်ထွန်းသက် အဖွဲ့ခေါင်းဆောင်
အဖွဲ့ဝင်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

(ခ) ဦးခင်မောင်ရီ အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

(ဂ) ဒေါက်တာမာလာမျိုးညွန့် အတွင်းရေးမှူး
ဒုတိယညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

**စစ်ဆေးရေးအဖွဲ့၏ စစ်ဆေးတွေ့ရှိချက်များ**

၅။ အဆိုပြုလွှာတင်ထားလွှာပါ လုပ်ငန်းများအလိုက် တည်ဆောက်ရေး လုပ်ငန်းများ ဆောင်ရွက်လျက်ရှိသော အခြေအနေနှင့် စပ်လျဉ်း၍ မြေပြင်တွင် အောက်ပါအတိုင်း စစ်ဆေး တွေ့ရှိရပါသည်-

(က) မြေဧရိယာဧက (၉၀၀) အနက် (၈၅၀) ဧကတွင် ငါးမွေးကန်များအား မူလမိရိုးဖလာ မွေးမြူသည့် စနစ်မှ မွေးမြူနည်းအသစ်၊ နည်းပညာအသစ်ဖြင့် ကနဦး စမ်းသပ်မွေးမြူကန်အဖြစ် တစ်စတုရန်းပေတွင် ငါးကောင်ရေ (၃၅)ကောင် နှုန်းဖြင့် (၃)ဧက အကျယ်၊ (၁၂)ပေ အနက် ငါးမွေးကန် တစ်ကန်လျှင် ကောင်ရေ (၅)သိန်း နှုန်းဖြင့် ငါးမွေး ကန် (၆)ကန်တွင် ခေတ်မီစနစ်ဖြင့် ငါးတန် ငါးမျိုးများမွေးမြူထားကြောင်း၊ အခြားကန် (၆)ကန်သည် ရေသွင်း၊ ရေထုတ်ပိုက်များ ပြင်ဆင်ဆဲ အခြေအနေ ဖြစ်ကြောင်း၊ ကျန်ရှိသော ငါးကန် အဟောင်းများအား အကျယ်ချဲ့ထွင်ခြင်း၊ လိုချင်သည့် အနက်ပေ တူးဖော်ခြင်း၊ မျိုးငါးများအား အထီး၊ အမ သီးသန့်မွေးမြူရေး ကန်ငယ်များဖြင့် မွေးမြူခြင်း စသည့် မူလငါးမွေးကန် အဟောင်းများအား နည်းစနစ်အသစ်ဖြင့် ငါးမွေးကန် အသစ်များ ပြန်လည်ပြုပြင် လုပ်ကိုင်နေကြောင်း၊ တိုးချဲ့လုပ်ငန်းအဖြစ် (၅၀)ဧကတွင် သားဖောက်ခန်း (Hatchery)၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ (Fish Processing Plant)၊ (Cold Storage Facility)၊ ဝန်ထမ်းအိမ်ရာများ တည်ဆောက်ခြင်း စသည့် Construction Stage အား စတင်ခြင်း မရှိသေးကြောင်း တွေ့ရှိရပါသည်။ ငါးပြုပြင် ထုတ်လုပ်သည့် စက်ရုံ၊ ရုံး အဆောက်အဦ၊ ဝန်ထမ်းအိမ်ရာ စသည်များအတွက် လယ်ယာမြေ အခြားနည်း အသုံးချခွင့်

ရရှိရေးအတွက် စိုက်ပျိုးမွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) အဆိုပြု လျှောက်ထားလွှာတွင် ဖော်ပြခဲ့သည့် စီမံကိန်း မတည်ငွေရင်းမှာ ကျပ်သန်းပေါင်း ၂၀၀,၀၀၀ ဖြစ်ပါသည်။ ကုမ္ပဏီ ဥက္ကဋ္ဌ ဦးဌေးမြင့်၏ တင်ပြချက်အရ Global Earth Agro & Aqua Industry Public Company Limited သည် အများပိုင် ကုမ္ပဏီဖြစ်သည့်အလျောက် ယင်းငွေကြေး အရင်းအနှီးပမာဏအရ အများပြည်သူပိုင်ဆိုင်ရေးအတွက် ရှယ်ယာခေါ်ယူ ဆောင်ရွက်မည် ဖြစ်ပါကြောင်း သိရှိရပါသည်။ ကမ္ဘောဇရတနာဘဏ် ဥက္ကဋ္ဌ ဦးမောင်မောင်သိမ်းမှ ပါဝင်တင်ပြချက်အရ ကမ္ဘောဇရတနာဘဏ် အနေဖြင့် ကုမ္ပဏီအား ဗဟိုဘဏ်၏ ကန့်သတ်ချက် အတိုင်းအတာကို ကျော်လွန်ကာ ထုတ်ချေးပေးထားပြီး ဖြစ်ပါကြောင်း၊ နေပြည်တော်တွင် ကျင်းပခဲ့သည့် ASEAN Summit တွင် အတည်ပြုခဲ့သည့် JICA Two Step Loan အစီအစဉ်အရ ဂျပန်နိုင်ငံမှ ရရှိမည့် ချေးငွေကို မိမိတို့ ကမ္ဘောဇရတနာဘဏ်မှ တစ်ဆင့် ကုမ္ပဏီသို့ ထုတ်ချေးခွင့်ပြုရေးအတွက် နိုင်ငံတော်မှ အာမခံကာ ခွင့်ပြုပေးမည်ဆိုပါက အလွန်အဆင်ပြေနိုင်မည် ဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပေးစေလိုပါကြောင်း သိရှိရပါသည်။

(ဂ) ကုမ္ပဏီ အနေဖြင့် လက်ရှိ စမ်းသပ်မွေးမြူထားသည့် ငါးတန်များအား ပြည်တွင်းရှိ အအေးခန်း စက်ရုံများသို့ ရောင်းချနိုင်သည့် အဆင့်သို့ ရောက်ရှိနေပြီ ဖြစ်ပါသည်။ ယင်းသို့ ရောင်းချရာတွင် ဝယ်ယူသူများမှ အအေးခန်း ကားများဖြင့် ငါးကန်များအရောက် လာရောက်ဝယ်ယူလျက်ရှိကြောင်း တွေ့ရှိရပါသည်။ ငါးပြုပြင်ထုတ်လုပ်မည့် စက်ရုံမှာ မြေနေရာ သတ်မှတ်ထားဆဲအဆင့်တွင်သာ ရှိနေသေးသော်လည်း ဥရောပ၊ ဂျပန်နှင့် တရုတ်နိုင်ငံဈေးကွက်များသို့ တင်ပို့ရောင်းချရေးအတွက် ဈေးကွက်ရှိထားပြီးဖြစ်ကြောင်း သိရှိရပါသည်။

(ဃ) အဆိုပြုချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေး ကော်မတီ အစည်းအဝေးသို့ တင်ပြပြီးနောက် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (OSS)သို့ သဘောထားတောင်းခံစဉ်ကပင် ယခုဆောင်ရွက်မည့် စီးပွားရေး လုပ်ငန်း အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ဆောင်ရွက်ရန် သဘောထား ပြန်ကြားလာသဖြင့် ကုမ္ပဏီသို့ ဆက်လက် အကြောင်းကြားထားပြီးဖြစ်ရာ ကုမ္ပဏီအနေဖြင့် လက်ရှိအခြေအနေတွင် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာရေးသားရန် တတိယအဖွဲ့အစည်း တစ်ခုနှင့် ချိတ်ဆက် ဆောင်ရွက်လျက်ရှိကြောင်း သိရှိရပါသည်။

(င) နည်းပညာ ရရှိနိုင်မှု နှင့် ပတ်သက်၍ Global Earth Agro & Aqua Industry Public Company Limited မှ တာဝန်ရှိပုဂ္ဂိုလ်များ၊ မြန်မာနိုင်ငံမွေးမြူရေး လုပ်ငန်းအဖွဲ့ချုပ်မှ ပုဂ္ဂိုလ်များ၊ မြန်မာမွေးမြူရေး ပညာရှင်များ အနေဖြင့် ဗီယက်နမ်နိုင်ငံတွင် ငါးမွေးမြူရေး ပညာရပ်ကို သွားရောက် လေ့လာရာတွင် အထူးသဖြင့် ငါးတန်ငါးကို အသားရောင်ဖြူဖွေးစေအောင် မွေးမြူသည့် နည်းပညာ၊ စွန့်ပစ် ပစ္စည်းများမှ Bio-fertilizer ထုတ်လုပ်မှုနည်းပညာ စသည်တို့ကို သွားရောက်လေ့လာခဲ့ပြီး ပြန်လည်အသုံးချနိုင်ရေး ဆောင်ရွက်လျက်ရှိပါကြောင်း၊ အလုပ်သမားခန့်ထားမှုနှင့် ပတ်သက်၍ လုပ်ငန်း အပြည့်အဝ လည်ပတ်နိုင်သည့် ပထမနှစ်တွင် ပြည်တွင်း လုပ်သားအင်အား ၂၃၀၀ ဦးခန့် နှင့် ပြည်ပ ဝန်ထမ်း ၄ ဦးကို လည်းကောင်း၊ ထုတ်လုပ်မှု အပြည့်အဝ ဆောင်ရွက်နိုင်သည့် အခြေအနေတွင် ပြည်တွင်း ဝန်ထမ်း ၆၀၀၀ ဦးခန့်ကို လည်းကောင်း အလုပ်အကိုင်ခန့်အပ်နိုင်သည့် အခြေအနေ ရှိပါကြောင်း သိရှိရပါသည်။

(စ) အခြားတွေ့ရှိချက် အနေဖြင့် စီမံကိန်း ဆောင်ရွက်မည့်နေရာသည် ယခင်က ရေနက်ကွင်းဒေသ စပါးစိုက်ပျိုးရန်ခက်ခဲသည့်နေရာများဖြစ်ပြီး နိုင်ငံတော်၏ မဟာဓါတ်အားလိုင်းစနစ်နှင့် ဝေးကွာလျက်ရှိနေသေးရာ ငါးကန်များအတွင်း ခေတ်မီနည်းစနစ် အသုံးပြုလျက် အစာကျွေးစနစ် ဆောင်ရွက်ရန်အတွက် လည်းကောင်း၊ ငါးသားဖေါက်လုပ်ငန်းစဉ်အတွက်လည်းကောင်း၊ အဆင့်မြင့်ထုတ်ကုန်အဖြစ် ဆင့်တက်ပြုပြင်သည့် လုပ်ငန်းစဉ်အတွက်လည်းကောင်း လိုအပ်သည့် လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင်ဂျင်နရေတာဖြင့် လည်ပတ် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စီမံကိန်းအတွက် တစ်နှစ်တာလျှပ်စစ်ဓါတ်အား လိုအပ်ချက်သည် (၁၈.၂) မဂ္ဂါဝပ်ဖြစ်ပြီး နိုင်ငံတော်ဓါတ်အားစနစ်(National Grid) မှရယူနိုင်ရေး လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ ချိတ်ဆက် ဆောင်ရွက်ထားကြောင်း သိရှိရပါသည်။

(ဆ) စီမံကိန်းလုပ်ငန်းအတွက် တစ်နှစ်တာ ရေလိုအပ်ချက်သည် ဂါလံ (၄၂)သန်း ဖြစ်ပြီး၊ ရွှေလောင်းချောင်းမှရေတံခါးဖြင့်အသွင်း၊အထုတ်ပြုလုပ်သုံးစွဲခြင်း၊မိုးတွင်းကာလတွင် မိုးရေအား reservoir ဖြင့် သိုလှောင်သုံးစွဲခြင်း၊ အဝီစိတွင်းတူး၍ မြေအောက်ရေ ရယူသုံးစွဲခြင်းတို့အား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ငါးကန်များ ရေလဲလှယ်ရန် အတွက် ငါးကန်၏ Outlet တွင် အနည်ထိုင်ကန် (Sedimentation Pond)ထားရှိပြီး အပေါ်ယံ ရေကြည်ခံ၍ ငါးကန်များအတွက် ပြန်လည် အသုံးပြုခြင်း၊ ပတ်ဝန်းကျင် လယ်ကွက်များသို့ ဒေသခံများမှ စိုက်ပျိုးရေးအတွက် အသုံးပြုလိုပါက မြောင်းများမှ ပေးဝေခြင်းများ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ Fishing Process မှ ထွက်ရှိလာမည့် ရေဆိုးများ သန့်စင်နိုင်ရန် Wastewater TreatmentPlant တစ်ခု တည်ဆောက်သွားမည်ဖြစ်ကြောင်း သိရှိရပါသည်။

**သုံးသပ်တင်ပြချက်**

၆။ Global Earth Agro & Aqua Industry Public Company Limited ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ရန် တင်ပြလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ အနေဖြင့် အောက်ပါအတိုင်း သုံးသပ် တင်ပြအပ်ပါသည်-

(က) ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်း အမျိုးအစားသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဦးစားပေး ဆောင်ရွက်သင့်သည့် လုပ်ငန်းများ စာရင်းတွင် ပါရှိပြီးဖြစ်သကဲ့သို့ အကျယ်အဝန်း၊ ငွေသားနှင့် စက်ပစ္စည်းရင်းနှီးမြှုပ်နှံမှု ပမာဏများအရလည်း မြန်မာနိုင်ငံတွင် မွေးမြူရေးကဏ္ဍ၌ အကြီးမားဆုံး နိုင်ငံသားပိုင် ရင်းနှီးမြှုပ်နှံမှုဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် အားပေးသင့်သော လုပ်ငန်းဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ခ) ကုမ္ပဏီအနေဖြင့် နိုင်ငံတော်မှ အသိအမှတ်ပြုသည့် အထူးသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုသည့် လုပ်ငန်းဖြစ်မှသာလျှင် နိုင်ငံတကာဈေးကွက်ကို ထိုးဖောက်ရာ၌လည်းကောင်း၊ ချေးငွေရရှိရေးအတွက် လည်းကောင်း ပိုမိုလွယ်ကူနိုင်မည်ဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ဂ) လုပ်ငန်း အကောင်အထည်ဖော်မှုအတွက် လျှပ်စစ်ဓါတ်အားမှာ မရှိမဖြစ် လိုအပ်သည်ဖြစ်ရာ နိုင်ငံတော် ဓါတ်အားစနစ်မှ ရယူနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အနေဖြင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ လည်းကောင်း၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့်လည်းကောင်း ချိတ်ဆက် ဆောင်ရွက်ပေးသင့်ပါကြောင်း သုံးသပ် တင်ပြအပ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ရှုထောင့်မှ အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည် -

(၁) စီမံကိန်းမြေနေရာ (၃၆၃၃.၁၄)ဧကသည် ငါးမွေးမြူရေးကန် မြေအဖြစ် ၂၀၀၂ ခုနှစ်တွင် လယ်/နိုင်၃၉/၄၀ မြေအမျိုးအစားအဖြစ် ခွင့်ပြုမိန့်ကျပြီးဖြစ်၍ ဆန္ဒမပါသော နေရာပြောင်းရွှေ့ရမှု၊ အိမ်ရာပြောင်းရွှေ့ရမှုများ မရှိကြောင်း သုံးသပ်တွေ့ရှိရပါသည်။

(၂) မူလငါးကန် အဟောင်းများမှ တူးထုတ်သည့် မြေစာများအား ငါးကန်ဘောင်တင်ရန်နှင့် ငါးကန်အဟောင်းများ မြေဖို့ရန် အသုံးပြုခြင်းကြောင့် အဆိုပါမြေစာများ စွန့်ပစ်မှုအတွက် သိသာထင်ရှားသော ထိခိုက်မှုမရှိကြောင်း သုံးသပ်တွေ့ရှိရပါသည်။

(၃) ငါးကန်၏ ရေထုတ်စနစ်များတွင် လယ်ကွက်များအတွင်း PVC ပိုက်များဖြင့် တိုက်ရိုက် ထုတ်ထားသည်ဖြစ်၍ ငါးကန်မှ စွန့်ပစ်အော်ဂဲနစ် ပစ္စည်းများကြောင့် ပတ်ဝန်းကျင် မြောင်းများတွင် အာဟာရဓါတ်စုပုံခြင်း၏ (Eutrophication) ဖြစ်စဉ်ဖြစ်ပေါ်နေကြောင်းနှင့် ငါးကန် (၁၂ ပေအနက်၊ ၃ ဧကအကျယ်) တစ်ခုခြင်းအတွက် ရေလိုအပ်ချက်၊ ရယူမည့် ရေအရင်းအမြစ်နှင့်ပတ်သက်၍ ယခင်ငါးကန်အဟောင်းများအတွက် ရွှေလောင်းချောင်းမှ ရယူသကဲ့သို့ ရေတံခါးဖြင့် ရယူမည်ဖြစ်ကြောင်းသာသိရှိရပြီး ငါးမွေးကန် တစ်ကန်ချင်းစီ၏ ရေလိုအပ်ချက်အား တွက်ချက်ထားမှုမရှိကြောင်း၊ ယခင်ငါးကန်များထက် အကျယ်၊ အနက် ပိုမိုလာမည်ဖြစ်၍ ရွှေလောင်းချောင်းမှ ရေရယူသုံးစွဲရာတွင် လုံလောက်မှုရှိ၊ မရှိနှင့် ပတ်ဝန်းကျင်ဒေသခံများ၏ ရေရယူသုံးစွဲရမှုအပေါ် ထိခိုက်နိုင်ခြေ ရှိ၊ မရှိ နှင့် မိုးရာသီကာလများတွင် ယခင် (၃၆၃၃.၁၄)ဧကသို့ စီးဝင်နေသည့် ရေကာတာ ဆောင်ပတ်၍ ကာရံလိုက်သဖြင့် ရေများစီးဝင်ခွင့် မရတော့သည့်အခါ ဘေးပတ်ဝန်းကျင် အပေါ် ရေကြီးရေလျှံမှု ဖြစ်ပေါ်နိုင်ခြင်း၊ Environmental Hydrology အပေါ် သက်ရောက်နိုင်မှုအား စိစစ်တွက်ချက်ထားခြင်း မရှိကြောင်း သုံးသပ် တွေ့ရှိရပါသည်။

(၄) ငါးမွေးကန်များ၏ ဘေးဘက်နှင့် အောက်ခြေတွင် Polyethylene Sheet (PE Sheet) ထားရှိခြင်းမရှိဘဲ မြေသားကန်အတိုင်း မွေးမြူမည်ဖြစ်၍ ငါးမွေးကန်များမှ စွန့်ပစ်အရည်များ၊ ငါးအစာများ ကျွေးမွေးခြင်းမှ ပိုလျှံအစာများတွင် အော်ဂန်းနစ် ပစ္စည်းအများစုသည် ကန်အောက်ခြေ၊ ကန်ဘေးနံရံစုပုံမှုမှတဆင့် မြေအောက်သို့ စိမ့်ဝင်မှု(leaching)၊ ကန် အချင်းချင်းတစ်ဖက်သတ် စိမ့်ဝင်မှု (Osmosis) များမှ တဆင့် ပတ်ဝန်းကျင် မြေထု၊ ရေထု၊ မြေအောက် ရေထု ( Underground Water)သို့ ရောက်ရှိစေနိုင်ကြောင်း သုံးသပ် တွေ့ရှိရပါသည်။

(၅) လျှပ်စစ်ဓါတ်အား ရယူသုံးစွဲရန်အတွက် Alternative နည်းလမ်းများ ထည့်သွင်း စဉ်းစားထားမှု အားနည်းကြောင်း သုံးသပ်တွေ့ရှိရပါသည်။

(၆) ငါးမွေးကန်များအတွက် chemical အသုံးမပြုကြောင်း သိရှိရသော်လည်း ပဋိဇီဝ ဆေး၊ ဟော်မုန်းဆေးများအားသားဖောက်ခြင်းနှင့် မျိုးငါးမွေးမြူခြင်း လုပ်ငန်းစဉ်များတွင် အသုံးပြုရမည်ဖြစ်၍ ၎င်းဆေးများ၏ စွန့်ပစ်မှု၊ ဓါတ်ကြွင်း အာနိသင်များမှ ပတ်ဝန်းကျင်အပေါ် ကြွင်းကျန် သက်ရောက်မှုများ ဖြစ်နိုင်ကြောင်း သုံးသပ် တွေ့ရှိရပါသည်။

(င) ကုမ္ပဏီသည် ပြည်ပ ဈေးကွက်ရရှိရေးကို အဓိကအားထားခြင်းကြောင့် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) နှင့်

ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေနှင့်အညီ ရေးဆွဲပြီးပါက သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ဆက်လက် တင်ပြသွားရန် လိုအပ်ပါသည်။

(စ) ငါးအအေးခန်း စက်ရုံ၊ ရုံး အဆောက်အဦ၊ ဝန်ထမ်းအိမ်ရာ စသည်များအတွက် လယ်ယာမြေ အခြားနည်းအသုံးချခွင့် ရရှိရေးအတွက် စိုက်ပျိုးမွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားခြင်းအား ပြီးစီးသည်အထိ ဆက်လက် ဆောင်ရွက် သွားရန် လိုအပ်ပါသည်။

(ဆ) တင်ပြပါ ငါးမွေးမြူရေးလုပ်ငန်းသည် ပြည်ပ ဈေးကွက်ရှိသော လုပ်ငန်းတစ်ခု ဖြစ်သည့်အလျောက် ရေလုပ်ငန်း ဆောင်ရွက်နိုင်သည့် မွန်ပြည်နယ်၊ တနင်္သာရီတိုင်း ဒေသကြီးနှင့် ဖွံ့ဖြိုးတိုးတက်မှု အားနည်းသော ကရင်ပြည်နယ်၊ ကယားပြည်နယ် ဒေသများတွင် နည်းပညာများ ဆင့်ပွားဖြန့်ဖြူးစေပါက တိုင်းဒေသကြီး၊ ပြည်နယ်များ ၏ ဖွံ့ဖြိုးတိုးတက်မှုအတွက် များစွာ အထောက်အကူဖြစ်စေနိုင်မည် ဖြစ်ပါကြောင်း သုံးသပ် တင်ပြအပ်ပါသည်။

**နိဂုံး**

၇။ Global Earth Agro & Aqua Industry Public Company Limited မှဆောင်ရွက်မည့် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ)သည် နိုင်ငံတော်၏ စီးပွားရေးလျှင်မြန်စွာဖွံ့ဖြိုးရေးအတွက် အဓိက မောင်းနှင်အားဖြစ်သော မွေးမြူရေးကဏ္ဍဖွံ့ဖြိုးရေးအတွက် အထောက်အကူပြုနိုင်မည့် ရင်းနှီးမြှုပ်နှံမှု တစ်ခုပင် ဖြစ်ပါသည်။

၈။ Global Earth Agro & Aqua Industry Public Company Limited ဥက္ကဋ္ဌ ဦးဌေးမြင့် ၏တင်ပြချက်အရ ငါးမွေးမြူခြင်း၊ အဆင့်မြင့် ထုတ်ကုန်များ ထုတ်လုပ်ခြင်းအားဖြင့် ကုမ္ပဏီ အနေဖြင့် အကျိုးအမြတ်ရှိစေခြင်း၊ နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေ ရရှိနိုင်ခြင်း၊ ဒေသခံများ အလုပ်အကိုင် ရရှိခြင်း၊ ပညာရေး၊ ကျန်းမာရေးများ တိုးတက်ခြင်းတို့ကြောင့် လုပ်ငန်းစီမံကိန်းနှင့် ဆက်စပ်သည့် အနီးပတ်ဝန်းကျင်ဒေသ ဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်း စသည့် တိုက်ရိုက် အကျိုးစီးပွားများကို လည်းကောင်း၊ Integrated Business ဖြစ်ခြင်းကြောင့် ထုတ်လုပ်မှုအပြင် အခြားဝန်ဆောင်မှု လုပ်ငန်းများဖြစ်သော လမ်းတံတား၊ ဆိပ်ကမ်း စသည့် ဆက်စပ်ကဏ္ဍအသီးသီး အနေဖြင့်လည်း လိုက်ပါဖွံ့ဖြိုးလာသည့် သွယ်ဝိုက် အကျိုးစီးပွားများကိုလည်းကောင်း ရရှိခံစားနိုင်မည် ဖြစ်ပါသည်။

၉။ သို့ဖြစ်ရာ Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ငါးထွက်ကုန်များ (Fish Fillet, Butterfly) နှင့် ဆက်စပ် ထုတ်ကုန်များ (Fish Skin, Fish Maw, Fish Meal, Fish Oil) ထုတ်လုပ်ကာ ပြည်ပသို့ ရောင်းချရန် အဆိုပြု လျှောက်ထားလွှာ တင်သွင်းခဲ့ခြင်းအပေါ် မြေပြင် ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှ ကွင်းဆင်း စစ်ဆေး

ခဲ့ရာ၌ လက်ရှိအခြေအနေတွင် ကုမ္ပဏီအနေဖြင့် ဆောင်ရွက်နေမှုများမှာ ခွင့်ပြုသင့်သည့် အခြေအနေရှိပါကြောင်းနှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုအတွက် လိုက်နာ ဆောင်ရွက်ရမည့် ကတိကဝတ်များကို သေချာစွာ လိုက်နာဆောင်ရွက်စေသင့်ပါကြောင်း အကြံပြု တင်ပြအပ်ပါသည်။

(ပါမောက္ခဒေါက်တာအောင်ထွန်းသက်)
အဖွဲ့ခေါင်းဆောင်
ကွင်းဆင်းစစ်ဆေးရေးအဖွဲ့

Global Earth Agro & Aqua Industry Public Company Limited
ကွင်းဆင်းစစ်ဆေးချက် မှတ်တမ်းဓါတ်ပုံများ



Global Earth Agro & Aqua Industry Public Company Limited မှ
တာဝန်ရှိသူများက ရှင်းလင်းတင်ပြခြင်း



ငါးကန်အသစ်များ ဖော်ထုတ်နေမှုအခြေအနေ



ထုတ်ကုန်များကို အအေးခန်းကားများဖြင့် သယ်ဆောင်ခြင်း



**ငါးကန်အသစ်များတွင် ရေသွင်းရေထုတ်ပိုက်များ**
**တည်ဆောက်ထားမှု အခြေအနေ**



**လက်ရှိမွေးမြူထားသည့် ငါးတန် မွေးမြူရေးကန်**



ဖောင်ဖြင့် ငါးစာကျွေးခြင်း



လက်ရှိမွေးမြူထားသည့် မျိုးငါးတန်များ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ရုံးတွင်းအမိန့်စာအမှတ်၊ ၂၀ /၂၀၁၉
၁၃၈၀ ခုနှစ်၊ ပြာသိုလဆန်း ၉ ရက်
၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်နေ့တွင် ကျင်းပသော (၂၁/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးတွင် ဧရာဝတီတိုင်းဒေသကြီး၊ ပန်းတနော်မြို့နယ်တွင် ဆောင်ရွက်မည့် Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင် ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြလာခြင်းကို ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ပြီးမှသာ ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုလုပ်ငန်းအား အောက်ဖော်ပြပါ ပုဂ္ဂိုလ်များ ပါဝင်သော အဖွဲ့ ဖွဲ့စည်း၍ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၅ ရက်နေ့တွင် စစ်ဆေးဆောင်ရွက်သွားမည် ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ဒေါက်တာအောင်ထွန်းသက် | အဖွဲ့ဝင် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် | အဖွဲ့ခေါင်းဆောင် |
| (ခ) | ဦးခင်မောင်ရီ | အဖွဲ့ဝင် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် | အဖွဲ့ဝင် |
| (ဂ) | ဒေါက်တာမာလာမျိုးညွန့် | ဒုတိယ ညွှန်ကြားရေးမှူးချုပ် | ရင်းနှီးမြှုပ်နှံမှု နှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန | အတွင်းရေးမှူး |

၃။ စစ်ဆေးရေးအဖွဲ့သည် စစ်ဆေးခဲ့သည့် တွေ့ရှိချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ အစီရင်ခံ တင်ပြရန် နှင့် လိုအပ်ပါက မှတ်တမ်းဓါတ်ပုံများ ပူးတွဲ တင်ပြရန် ဖြစ်ပါသည်။

သောင်းထွန်း
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၂/ခ-၀၃၄/၂၀၁၉ ( ၀၁၄ )
ရက်စွဲ ၊၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၄ ရက်

ဖြန့်ဝေခြင်း

သက်ဆိုင်ရာပုဂ္ဂိုလ်များ

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ ဂလိုဘယ်(လ်)အာ့သ်အဂရိုအင်န်အကွာအင်ဒတ်စထရီအမျိုးနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်

ရုံးလက်ခံ/ မျှောစာတွဲ

အမိန့်အရ

(အောင်နိုင်ဦး)
အတွင်းရေးမှူး